လျှို့ဝှက်

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Change U Myanmar International College Co.,Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Providing Private Education Services including Higher Education လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု လျှောက်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br><br><br>လုပ်ငန်းအမျိုးအစား | - Change U Myanmar International College Co., Ltd.<br>- Mr. Lau Kim Fung<br>- ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>ChangeU Education Asia Pacific (Hong Kong) ၁၀၀% Holding Limited<br>- Providing Private Education Services including Higher Education |
| ၂။ | တည်နေရာ | - ၃လွှာ နှင့် ၄လွှာ၊ တိုက်အမှတ်-၄၊ Junction Square၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | အဆောက်အဦပိုင်ရှင်<br>အဆောက်အဦ<br>အကျယ်အဝန်း<br>အဆောက်အအုံ ငှားရမ်းခ<br>အဆောက်အအုံငှားရမ်း<br>အသုံးပြုခွင့်သက်တမ်း | - ဒေါ်ခင်မျိုးသက်<br>- Junction Square ရှိ ၃လွှာ နှင့် ၄လွှာ စုစုပေါင်း ကြမ်းခင်းဧရိယာ ၃,၃၃၂ စတုရန်းပေ<br>- အမေရိကန်ဒေါ်လာ ၄,၂၅၀ (တစ်လ)<br><br>- ကနဦး ၅ နှစ်( ၅ နှစ် ၂ ကြိမ် သက်တမ်းတိုး) |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - ၁၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၁.၀၀ သန်း |
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | (see table below) |

| စဉ် | အမျိုးအမည် | ကာလ (လ) | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | ABE-Level 4 | ၁၀ | ၂၀ | ၂,၀၀၀,၀၀၀ |
| (ခ) | ABE-Level 5 | ၁၀ | ၂၀ | ၂,၀၀၀,၀၀၀ |
| (ဂ) | ABE-Level 6 | ၁၀ | ၂၄ | ၂,၀၀၀,၀၀၀ |
| (ဃ) | ACCA-Part 1 | ၁၂ | ၂၀ | ၁,၂၀၀,၀၀၀ |
| (င) | ACCA-Part 2 | ၁၈-၂၄ | ၂၀ | ၁,၂၀၀,၀၀၀ |
| (စ) | ACCA-Part 3 | ၁၈ | ၁၀ | ၁,၂၀၀,၀၀၀ |
| (ဆ) | IELTS | ၄ | ၁၀ | ၄၂၄,၀၀၀ |
| (ဇ) | Business English | ၃ | ၁၀ | ၄၂၄,၀၀၀ |
| (ဈ) | General English | ၃ | ၁၅ | ၄၂၄,၀၀၀ |
| (ည) | Conversation Class | ၃ | ၁၅ | ၄၂၄,၀၀၀ |

လျှို့ဝှက်

Salient

| | | |
|---|---|---|
| ၈။ | ဝန်ထမ်းခန့်ထားမှု<br>သင်ကြားရေး<br><br>စီမံခန့်ခွဲရေး | ပြည်တွင်း ပြည်ပ<br>ဦးရေ ၂၂ ဦး ၂ ဦး<br>အနိမ့်ဆုံးလစာ ကျပ် ၂၆၃,၀၀၀ ကျပ် ၆၉၄,၀၀၀<br>အမြင့်ဆုံးလစာ ကျပ် ၇၀၀,၀၀၀<br>ဦးရေ ၂၇ ဦး ၁ ဦး<br>အနိမ့်ဆုံးလစာ ကျပ် ၁၇၀,၀၀၀ ကျပ် ၆၉၄,၀၀၀<br>အမြင့်ဆုံးလစာ ကျပ် ၁,၀၀၀,၀၀၀ |
| ၉။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် CB Bank တွင် ChangeU Myanmar International College Co., Ltd. အမည်ဖြင့် ၂-၁၀-၂၀၁၈ ရက်နေ့တွင် US$ ၂၆,၈၄၃.၆၃ ရှိကြောင်း၊ စင်ကာပူနိုင်ငံရှိ OCBC Bank တွင် Mr. Lau Kim Fung အမည်ဖြင့် ၃၀-၁၁-၂၀၁၈ ရက်နေ့တွင် US$ ၄၁,၉၄၉.၂၅ ရှိကြောင်း တင်ပြထားပါသည်။<br>- Change U Myanmar International College Co., Ltd.၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ မြေပိုင်ဆိုင်မှုအထောက်အထား၊ အဆောက်အဦပိုင်ရှင် ဒေါ်ခင်မျိုးသက်နှင့် ကုမ္ပဏီတို့ ချုပ်ဆိုထားသည့် အဆောက်အဦ ငှားရမ်းခြင်းစာချုပ်(မူကြမ်း) များအားတင်ပြထားပါသည်။<br>-သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများ၊ သင်ကြားမည့် သင်ရိုးညွှန်းတမ်းများ တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဘာသာရပ်သင် ပုဂ္ဂလိကကျောင်းတစ်ခုအနေဖြင့် သင်ကြားမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့်ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် CSR အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးဖြစ်ပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးမှုရှိသောဒေသများ ဇုန်(၃)တွင် ပါဝင်ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/ခ-၀၂၃/ ၂၀၁၉(၁၄၈)
ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇန်နဝါရီ လ ၃၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Change U Myanmar International College Co.,Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Providing Private Education Services including Higher Education လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဟောင်ကောင်နိုင်ငံ ChangeU Education Asia Pacific Holding Limited မှ ၁၀၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Change U Myanmar International College Co.,Ltd. တည်ထောင်ပြီး ၃လွှာ နှင့် ၄လွှာ၊ တိုက်အမှတ်-၄၊ Junction Square၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Providing Private Education Services including Higher Education လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလျှောက်ထားလွှာတင်ပြလာပါသည်။

၂။ အဆိုပြုလျှောက်ထားလွှာနှင့်အတူ Change U Myanmar International College Co., Ltd. ၏ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ မြေပိုင်ဆိုင်မှုအထောက်အထား၊ အဆောက်အဦပိုင်ရှင် ဒေါ်ခင်မျိုးသက် နှင့် ကုမ္ပဏီတို့ချုပ်ဆိုထားသည့် အဆောက်အဦ ငှားရမ်းခြင်းစာချုပ်(မူကြမ်း) နှင့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်းအထောက်အထားများနှင့် သင်ကြားမည့်သင်ရိုးညွှန်းတမ်းများအား ပူးတွဲတင်ပြထားပါသည်။

၃။ အဆောက်အဦငှားရမ်းသက်တမ်းမှာ ကနဦး ၅နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။စုစုပေါင်းကြမ်းခင်းဧရိယာ အကျယ်အဝန်း ၃,၃၃၂ စတုရန်းပေအား ငှားရမ်းမည် ဖြစ်ပြီး လစဉ်ငှားရမ်းခမှာ US$ ၄,၂၅၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၁၀နှစ်ဖြစ်ပြီး ပြင်ဆင်မှုကာလမှာ ၁နှစ် ဖြစ်ကြောင်းတင်ပြထားပါ သည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၀၀ သန်း ဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၂၂ ဦးနှင့် ပြည်ပဝန်ထမ်း ၂ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၆၃,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၆၉၄,၀၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၂၇ ဦးနှင့် ပြည်ပဝန်ထမ်း ၁ ဦး

ခန့်ထားမည်ဖြစ်ပါသည်။ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၇၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၆၉၄,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ကာလ (လ) | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | ABE-Level 4 | ၁၀ | ၂၀ | ၂,၀၀၀,၀၀၀ |
| (ခ) | ABE-Level 5 | ၁၀ | ၂၀ | ၂,၀၀၀,၀၀၀ |
| (ဂ) | ABE-Level 6 | ၁၀ | ၂၄ | ၂,၀၀၀,၀၀၀ |
| (ဃ) | ACCA-Part 1 | ၁၂ | ၂၀ | ၁,၂၀၀,၀၀၀ |
| (င) | ACCA-Part 2 | ၁၈-၂၄ | ၂၀ | ၁,၂၀၀,၀၀၀ |
| (စ) | ACCA-Part 3 | ၁၈ | ၁၀ | ၁,၂၀၀,၀၀၀ |
| (ဆ) | IELTS | ၄ | ၁၀ | ၄၂၄,၀၀၀ |
| (ဇ) | Business English | ၃ | ၁၀ | ၄၂၄,၀၀၀ |
| (ဈ) | General English | ၃ | ၁၅ | ၄၂၄,၀၀၀ |
| (ည) | Conversation Class | ၃ | ၁၅ | ၄၂၄,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာနအဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၉ ခုနှစ် ဇန်နဝါရီ လ ၁၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၂/၂၀၁၉၊ ဆုံးဖြတ်ချက်အပိုဒ် ၆၈ အရ ၃လွှာ နှင့် ၄လွှာ၊ တိုက်အမှတ်-၄၊ Junction Square၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် လုပ်ငန်းဆောင်ရွက်ခြင်းအား ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါ သည်။

၉။ ငွေကြေးအထောက်အထားအဖြစ် CB Bank တွင် Change U Myanmar International College Co., Ltd. အမည်ဖြင့် ၂-၁၀-၂၀၁၈ ရက်နေ့တွင် US$ ၂၆,၈၄၃.၆၃ ရှိကြောင်း၊ စင်ကာပူနိုင်ငံရှိ OCBC Bank တွင် Mr.Lau Kim Fung အမည်ဖြင့် ၃၀-၁၁-၂၀၁၈ ရက်နေ့တွင် US$ ၄၁,၉၄၉.၂၅ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ရခိုင်နူန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Change U Myanmar International College Co.,Ltd.မှ Providing Private Education Services including Higher Education လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁.၁၂.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၂၃ / ၂၀၁၈ (၄၄၈)

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Change U Myanmar International College Co.,Ltd မှ ၃ လွှာနှင့် ၄ လွှာ၊ တိုက်အမှတ်-၄ ၊ Junction Square၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Private Education Services including Higher Education လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၀.၁.၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၆၈)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဥ္ဇာမျိုး၊ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ကမာရွတ်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Change U Myanmar International College Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပညာရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ မူဝါဒ(သဘောထားမှတ်ချက်)၂၅၄၅/၂၀၁၉( ၃၃၂ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ( ၇ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁၂-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက -၅ (အ) / ခ - ၀၂၃ / ၂၀၁၈ (၄၄၇)
(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)
(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ စီမံကိန်း (သဘောထား)/ ၂၀၁၈(၁၇၀၅၇)

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Change U Myanmar International College Co., Ltd မှ ၃ လွှာ နှင့် ၄ လွှာ၊ တိုက်အမှတ်-၄ ၊ Junction Square ၊ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်တွင် Private Education Services including Higher Education ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့်လည်းကောင်း၊ အမျိုးသားပညာရေးမူဝါဒကော်မရှင်၏ သဘောထားမှတ်ချက်ကို ရည်ညွှန်း(၃)ပါစာဖြင့် လည်းကောင်း ပေးပို့ခဲ့ပြီးဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊
(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊
(ကက) နိုင်ငံသား၊
(ခခ) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်
(ဂဂ) နိုင်ငံခြားသား၊
(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့် အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိက ကျောင်းဆရာများ၏ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံ များနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိက ကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံး နေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(ကက) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများ သည်ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိခြင်း၊

(ခခ) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(ဂဂ) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဃ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မဖြစ်မနေ စိစစ်ရန် လိုအပ်ပါသဖြင့် ပညာရေးဝန်ကြီးဌာနသို့ အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်ပါရန် ပြန်ကြားခဲ့ပါသည်-

ဒေါက်တာကျော်နိုင်
ဒုတိယအမြဲတမ်းအတွင်းဝန်
ပညာရေးဝန်ကြီးဌာန
ဖုန်း- ၀၆၇ ၄၀၇၁၁၆
အီးမေးလ် - drkyawnaing2009@gmail.com

၄။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၁)ပါကိစ္စနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်းနှင့်ပညာရေးဝန်ဆောင်မှုဆိုင်ရာ လုပ်ငန်းများနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်း ပြန်ကြားအပ်ပါသည်။

Kyaw Naing
7-1-19

ဒုတိယဝန်ကြီး (ကိုယ်စား)
( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ/ မျှောစာတွဲ